

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ငွေလက်ခံ/ရရှိပြေစာ

20 OCT 2015

၂၀ ရက်စွဲ၊ ၁၀ - ၂၀၁၅

၁။ ကုမ္ပဏီအမည်(မြန်မာ) ချိုင်းနား စီဘီအေ အင်ဗက်စ်မင့် ကုမ္ပဏီ လီမိတက်

(အင်္ဂလိပ်) CHINA CBA Investments Co. Ltd.

၂။ ငွေပေးသွင်းသည့်အကြောင်းအရာ [illegible]

၃။ ပေးသွင်းသည့်ငွေ(ဂဏန်းဖြင့်) ၅,၅၀၀/- ကျပ်

(စာဖြင့်) ငါးထောင့်ငါးရာ ကျပ်




ငွေပေးသွင်းသူလက်မှတ် [signature]

အမည် [illegible]

ငွေလက်ခံသူလက်မှတ် [signature]

အမည် [illegible]




CHINA
# CBA INVESTEMENT CO.,LTD.

Add: No(248), Corner of 28th Street & 83th Street, Mandalay.
Tel: 09 430 58964, 09 256 108977, 09-793101314 Fax: E-mail:




## Recprd at the stakeholder's conferance.

| | | |
|---|---|---|
| Date | : | 2015 October 1 |
| Time | : | Morning 10 o'clock |
| Vene | : | At Company Hall |
| Attandants | : | All directors |

**Board of directors-**

| | | | | |
|---|---|---|---|---|
| 1. | Mr. Bao Zhenbin | Chinese PP No. G28969736 | M.D | [signature] |
| 2. | Daw Cho Cho San | 9/MaRaMa (N) 027284 | Director | [signature] |
| 3. | Mr. Jiang Jianguo | Chinese PP No. G36694818 | Director | [signature] |
| 4. | Mr. Tong Weijun | Chinese PP No. G61600837 | Director | [signature] |

Board of Directors (BOD) made decision to promote the following the objectives of the company at company administrantion Department in agreement with all the stakeholders.

1. Construction Services
2. Engineering & Design
3. Consultant Service
4. Wood based industry and swantiber
   Wood based industry and finished product

**Approver / Witness of the conference**

[signature]

**MR. BAO ZHENBIN**
**MINGING DIRECTOR**
**CHINA CBA INVESTMENTS CO.,LTD.**




CHINA

# CBA INVESTEMENT CO.,LTD.

Add: No(248), Corner of 28th Street & 83th Street, Mandalay.
Tel: 09 430 58964, 09 256 108977 .09-793101314 Fax: E-mail:




**The Objective for which the Company is established are-**

- Construction Services
- Engineering & Design
- Consultant Service
- Wood based industry and swantiber
- Wood based industry and finished product

To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so for as it may be entitled so as to do in accor dance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.

ComPainc of (          ) day a genda count Ts national project and economic built acceleration ministry capitalgains and compines director of department in date letter of authorisation side of page work purpose is adopt amendmend count. As acceptassocation memo in assocation constitution book is anended.

**MR BAO ZHENBIN**
**MINGING DIRECTOR**
**CHINA CBA INVESTMENTS CO., LTD.**




# CHINA CBA INVESTEMENT CO.,LTD.

Add: No(248), Corner of 28th Street & 83th Street, Mandalay.
Tel: 09 430 58964, 09 256 108977, 09-793101314 Fax: E-mail:




**ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ–**

- ဆောက်လုပ်ရေးနှင့် ပတ်သက်သည့်ဝန်ဆောင်မှုများ
- ဗိသုကာနှင့်ဒီဇိုင်းဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများ
- အကြံပေးနှင့် အတိုင်ပင်ခံလုပ်ငန်းများ
- သစ်ခွဲသားနှင့် သစ်အချောထည်လုပ်ငန်းများ

ကုမ္ပဏီမှသင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေး အဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသောတရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထား သည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန်အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီ သင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက် မည်ဟု ခြွင်းချက်ထားရှိပါသည်။



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)

အမှတ် ၁၁၃၅အက်ဖ်စီ / ၂၀၁၄-၂၀၁၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ချိုင်းနား စီဘီအေ အင်ဗက်စ်မင့် ကုမ္ပဏီ လီမိတက် ........................................ အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၅ နှစ်၊ ဖေဖော်ဝါရီ လ၊ ၁၆ ရက်နေ့တွင် ယာယီမှတ်ပုံတင်ခွင့် ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နွယ်နီဦး၊ ဒုတိယညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

———— ◆ ————

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION (TEMPORARY)

NO. 1135FC of 2014-2015

I hereby certify that CHINA C B A INVESTMENT COMPANY LIMITED ........................................ is this day incorporated under the Myanmar Companies Act and that the company is Limited.

Temporarily given under my hand at Nay Pyi Taw this SIXTEENTH day of FEBRUARY, TWO THOUSAND AND FIFTEEN.

**For Director General**
**(Nwe Ni Oo- Deputy Director )**
Directorate of Investment and Company Administration

ပဲခူးတိုင်းဒေသကြီး ၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ် ၊ မင်းလှကြိုးဝိုင်း၊ အကွက်အမှတ်

၄၀၊ ၄၁(ဝိုင်း)၊ ၄၂(ဝိုင်း)၊ ၄၄(ဝိုင်း) အတွင်း CBA Investment Co.,Ltd မှ

ပုဂ္ဂလိက ကျွန်း နှင့် သစ်မာမျိုးစုံစိုက်ခင်း (၁၀၁၀)ဧက တည်ထောင်မည့် တည်နေရာပြ မြေပုံ

စကေး ၁လက်မ = ၁ မိုင်






ရည်ညွှန်းချက်

- ကြိုးဝိုင်းနယ်နိမိတ်
- အကွက်နယ်နိမိတ်
- ချောင်း/မြောင်း

မြေပုံအမှတ် 85 N/16

- စိုက်ခင်းတည်နေရာ


C.B.A Investments Co.,Lt

စီ,ဘီ, အေ အင်ဗက်စမင့် (စ်) ကုမ္ပဏီလီမိတက်

မှုခွလီကကျွန်းစိုက်ခင်းတည်ထောင်မည့် ကိစ္စပတ်သက်၍ ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင်များမှ

ကန့်ကွက်ရန်မရှိကြောင်းဆုံးဖြတ်ချက်

စီ, ဘီ, အေ အင်ဗက်စမင့်(စ်)ကုမ္ပဏီလီမိတက်မှ ပဲခူးတိုင်းဒေသကြီး ---------- သာယာဝတီ ခရိုင်၊ အုတ်ဖို မြို့နယ်၊ ပဲခူး တြိုးဝိုင်း၊ အကွက်အမှတ်၄၁၊၄၁(ဃ)၊၄၂(ဃ)၊၄၄(ဃ)အတွင်း ပုခွလီကသစ်တောစိုက်ခင်း (၁၀၁၀)ဧက စိုက်ပျိုးတည်ထောင်မည့်ကိစ္စနှင့်ပတ်သက်၍ ကုမ္ပဏီဒါရိုက်တာအဖွဲ့များမှ ကန့်ကွက်ရန်မရှိကြောင်းနှင့် အဆိုပါလုပ်ငန်းဆောင်ရွက်ရန်အတွက် သစ်တောဦးစီးဌာနနှင့် ကုမ္ပဏီအကြားချုပ်ဆိုသည့်စာချုပ်တွင် ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင် ဒေါ်ချိုချိုစန်း တလက်မှတ်ရေးထိုးခြင်းကို သဘောတူပါကြောင်း အောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

| စဉ် | အမည် | နိုင်ငံသားစိစစ်ရေးအမှတ် | ရာထူး | လက်မှတ် |
|---|---|---|---|---|
| ၁။ | Mr. Bao Zhenbin | Chinese PP No. G28969736 | M.D | [signature] |
| ၂။ | Mr. Zhang Jianguo | Chinese PP NO. G36694818 | ဒါရိုက်တာ | [signature] |
| ၃။ | Mr. Tong Weijun | Chinese PP NO. G61600847 | ဒါရိုက်တာ | [signature] |

## C B A Investment Co., Ltd.၏ ပုဂ္ဂလိကကျွန်းနှင့်သစ်မာမျိုးစိုက်ခင်း ၁၀၁၀ ဧက တည်ထောင်မည့်လုပ်ငန်းအဆိုပြုလွှာ

နိဒါန်း

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနမှ အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ပုဂ္ဂလိကစိုက်ခင်း တည်ထောင်ခွင့်ပြုမည့် တင်ဒါလုပ်ကွက်များအနက် ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊မင်းလှကြိုးဝိုင်း၊အကွက်အမှတ် (၄၀)၊(၄၁)ပိုင်း၊(၄၂)ပိုင်း၊(၄၄)ပိုင်းတို့ရှိ တင်ဒါလုပ်ကွက်အမှတ် (၂၀)တွင်ပုဂ္ဂလိကကျွန်းနှင့်သစ်မာမျိုးစိုက်ခင်း ၁၀၁၀ ဧက တည်ထောင်ခွင့်ရရှိရေးအတွက် ဤလုပ်ငန်းအဆိုပြုလွှာကို ရေးဆွဲ တင်ပြရခြင်းဖြစ်ပါသည်။

ရည်ရွယ်ချက်

၂။ ပုဂ္ဂလိက ကျွန်းနှင့်သစ်မာမျိုးစိုက်ခင်း ၁၀၁၀ဧကကို အောက်ပါ ရည်ရွယ်ချက်များဖြင့် စိုက်ပျိုးတည်ထောင် သွားမည်ဖြစ်ပါသည်-

(က) ပုဂ္ဂလိကကျွန်းနှင့်သစ်မာမျိုးစိုက်ခင်းများ တည်ထောင်ထုတ်လုပ် ရောင်းချခြင်းအားဖြင့် နိုင်ငံတော်၏ ပုဂ္ဂလိကစီးပွားရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် တစ်ဖက်တစ်လမ်းမှ အထောက်အကူ ပြုနိုင်ရန်၊

(ခ) တောနိမ့်တောပျက်ဧရိယာများတွင် ကျွန်းနှင့်သစ်မာမျိုးစိုက်ခင်းများ တည်ထောင်ခြင်းအားဖြင့် သစ်တော ဖုံးလွှမ်းမှု ဧရိယာတိုးပွားလာစေရန်၊

(ဂ) ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်း ပိုမိုရရှိလာနိုင်စေရန်၊

(ဃ) ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် တစ်ဖက်တစ်လမ်းမှ ပါဝင်ကူညီဆောင်ရွက်ပေးနိုင်ရန်၊

(င) ကျွန်းနှင့်သစ်မာ မျိုးကောင်းမျိုးသန့်များ ရရှိရေးအတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ (Research and Development) အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်၊

(စ) ကျွန်းနှင့်သစ်မာသစ်မျိုးများ ထာဝစဉ်တည်တံ့စေရန်။

စိုက်ခင်းဆိုင်ရာအချက်အလက်များ

၃။ (က) တည်နေရာ

| | | |
|---|---|---|
| မြို့နယ်အမည် | - | အုတ်ဖိုမြို့နယ် |
| ကြိုးဝိုင်းအမည် | - | မင်းလှကြိုးဝိုင်း |
| အကွက်အမှတ် | - | (၄၀)၊(၄၁)ပိုင်း၊(၄၂)ပိုင်း၊(၄၄)ပိုင်း |

## ကုန်ကြမ်းရရှိမှုအခြေအနေ

ကျွန်မတို့၏ "CBA Investment Co., Ltd" သည် မန္တလေးတိုင်းဒေသကြီးအတွင်း၊ ပြည်ကြီးတံခွန်မြို့နယ်၊ (၈၂)ရတနာပုံရပ်ကွက်၊ အကွက်အမှတ်(ပပ-၃၅)၊ မြေကွက်အမှတ်(၁+၂)၊ မြေကေ(၂. ၀၈)ကေ အကျယ်အဝန်းမြေနေရာတွင် သစ်ခွဲသားစက်ရုံတည်ဆောက်ပြီး သစ်ခွဲသားနှင့်အချောထည်များ ထုတ်လုပ်သည့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

ကျွန်မတို့၏ကုမ္ပဏီအနေဖြင့် သစ်ခွဲသားများ၊ သစ်အချောထည်များထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းရရှိနိုင်ရန်၊ ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အင်းလှကြိုးဝိုင်း အကွက်အမှတ်(၄၀၊ ၄၁၊ ၄၂၊ ၄၄) တို့ရှိ တင်ဒါလုပ်ကွက်အမှတ်(၂၀)တွင် ပုဂ္ဂလိကကျွန်းနှင့် သစ်မာစိုက်ခင်း မျိုးစုံ(၁၀၁၀)ဧက တည်ဆောက်ပြီး ကိုယ်ပိုင်ကုန်ကြမ်းရရှိမှုများကို ပြုလုပ်ထားပါသည်။

လေးစားစွာဖြင့်

(Cho Cho San)
Director
CBA Investment Co., Ltd.








မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

း

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ချိုင်းနားစီဘီအေအင်ဗက်စမင့် ကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

CHINA CBA INVESTMENT COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ချိုင်းနားစီဘီအေအင်ဗက်စမင့် ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် "ချိုင်းနားစီဘီအေအင်ဗက်စမင့် ကုမ္ပဏီ လီမိတက်" ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါ အတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ -၁,၆၀၀,၀၀၀ (အမေရိကန်ဒေါ်လာ တစ်ဆယ့်ခြောက်သိန်း တိတိ)ဖြစ်၍ အမေရိကန်ဒေါ်လာ-၁၀၀(အမေရိကန်ဒေါ်လာတစ်ရာတိတိ)တန် အစုရှယ်ယာပေါင်း (၁၆,၀၀၀) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

ကုမ္ပဏီ၏ (            )ရက်နေ့ အစည်းအဝေးပါ တင်ပြချက်အရ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၏ (            )ရက်စွဲပါ စာအမှတ်                                        ၏ ခွင့်ပြုချက်အရ အစစ်ဖက်စာမျက်နှာပါ လုပ်ငန်းရည်ရွယ်ချက်များကို ရွေးချယ်ပြင်ဆင်တင်ပြအပ်ပါသည်။ အလားတူ လက်ခံသင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းစာအုပ်များတွင်လည်း ပြင်ဆင်ပြီးဖြစ်ပါသည်။

မစ္စတာပေါင်ဂျိမ်းပင်း

မန်နေဂျင်းဒါရိုက်တာ

ချိုင်းနားစီဘီအေ အင်ဗက်စမင့်စ်

ကုမ္ပဏီလီမိတက်

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ရည်ရွယ်ချက်များမှာ-

- ဆောက်လုပ်ရေးနှင့်ပတ်သက်သည့်ဝန်ဆောင်မှုလုပ်ငန်းများ
- ဗိသုကာနှင့် ဒီဇိုင်းဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများ
- အကြံပေးနှင့် အတိုင်ပင်ခံလုပ်ငန်းများ

၇။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန်အားလျော်စွာတည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန်သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | **Mr.Bao Zhenbin**<br>No.19, Taiping Stone, Yuhai Street,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 28969736 | 70% | |
| 2. | **Daw Cho Cho San**<br>No.948, Corner of 28th & 83th Street,<br>Mandalay.<br>(Merchant) | Myanmar<br>9/Ma Ya Ma<br>(Naing)-027284 | 20% | |
| 3. | **Mr.Jiang Jianguo**<br>Aotou Village, Tongpu Town,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 36694818 | 5% | |
| 4. | **Mr.Tong Weijun**<br>Room No.701, Unit 6, Building No.4,<br>Yanan Road, Huangshigang Street,<br>Huangshigang Dirstrict, Huangshi City,<br>Hubei Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 61600837 | 5% | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၅ ခုနှစ်၊ 2 လ၊ (၁၆) ရက်။
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

ဒေါ်ခင်မျိုးစု (LL.B)
တရားလွှတ်တော်ရှေ့နေ
အမှတ် (၁၉၉/၂၇)၊ ၃၃ × ၃၄ လမ်းကြား၊
၇၃ × ၇၄ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊
မန္တလေးမြို့။ ☎ ၀၂-၂၁၈၁၉
၀၉-၄၃၀၁၁၀၈၁၊ ၀၉၀၃၄၀၉၂၊ ၂၁၁၅၂၀၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ချိုင်းနားစီဘီအေအင်ဗက်စမင့် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

* * * * *

၁။ ဤ သင်းဖွဲ့စည်းမျဉ်း နှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤ ကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများ မှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤ ကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခု အတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ -၁,၆၀၀,၀၀၀ (အမေရိကန်ဒေါ်လာ တစ်ဆယ့်ခြောက်သိန်း တိတိ)ဖြစ်၍ အမေရိကန်ဒေါ်လာ-၁၀၀(အမေရိကန်ဒေါ်လာတစ်ရာတိတိ)တန် အစုရှယ်ယာပေါင်း (၁၆,၀၀၀) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက် များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၅ဝ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) Mr. Bao Zhenbin (Chinese)

(၂) Daw Cho Cho San (Myanmar)

(၃) Mr. Jiang Jianguo (Chinese)

(၄) Mr. Tong Weijun (Chinese)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညွှန်ကြားချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (..)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်လမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင် အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများ အားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ထို့ပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ရာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့်အဆိုပါ ငွေကြေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက် စေခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံ ခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များ အတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာ များ၏ ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူးသို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ရာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန် ၊ ထိုအပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပက်သတ်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိကဲသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း ၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ကန်ထရိုက်စာချုပ်များနှင့်စာရွက်စာတမ်းများကိုကုမ္ပဏီ၏ ကိုယ်စား မည်သူကလက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန်မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့်စီမံခန့်ခွဲထားရန်၊ထိုအပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည် ) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည် ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စား ဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် ။ အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့်အာဏာနှင့် အခြားသောသဘော တူညီထားသည် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါဌာန်းချက်များပါပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆိုအတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ်ကုမ္ပဏီ၏ အထွေထွေအမြတ်စွန်းမှခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့်အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊အရာရှိများ၊ဝန်ထမ်းများနှင့်အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊စည်းကမ်းဥပဒေများကိုအခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟုယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီသို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့် သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ် ရာခိုင်နှုန်း ထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန် အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီ တွင် အစုရှင် အရေအတွက် နှစ်ဦးတည်း သာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအားရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥဏ်ပူဇော်ခများနှင့် အခကြေး ငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကိုဤကုမ္ပဏီ၏မှတ်ပုံတင်ထားသောလုပ်ငန်းရုံးများသို့မဟုတ်ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်တို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦးရှေ့ မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥအဒေ ပုဒ်မ ၈၆(ဂ) တွင် ဖော်ပြရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန်ဝတ္တရားများတို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုကာဝန်ဝတ္တရားများနှင့် စပ်လျဥ်း၍ ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ဆုံးရှုံးငွေများ၊ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥအဒေများနှင့်ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဥ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | **Mr.Bao Zhenbin**<br>No.19, Taiping Stone, Yuhai Street,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 28969736 | 70% | |
| 2. | **Daw Cho Cho San**<br>No.948, Corner of 28th & 83th Street,<br>Mandalay.<br>(Merchant) | Myanmar<br>9/Ma Ya Ma<br>(Naing)-027284 | 20% | |
| 3. | **Mr.Jiang Jianguo**<br>Aotou Village, Tongpu Town,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 36694818 | 5% | |
| 4. | **Mr.Tong Weijun**<br>Room No.701, Unit 6, Building No.4,<br>Yanan Road, Huangshigang Street,<br>Huangshigang Dirstrict, Huangshi City,<br>Hubei Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 61600837 | 5% | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၅ ခုနှစ်၊ 2 လ၊ ( 16 ) ရက်။
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

ဒေါ်ခင်မျိုးစု (LL.B)
တရားလွှတ်တော်ရှေ့နေ
အမှတ် (၁၉၉/၂၇)၊ ၃၃ × ၃၄ လမ်းကြား၊
၇၃ × ၇၄ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊
မန္တလေးမြို့။ ☎ ၀၂-၂၁၈၁၉
၀၉-၄၃၀၁၁၀၈၁၊ ၆၅၀၃၄၀၉၊ ၂၀၁၅၂၀၈

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum of Association

*OF*

## CHINA CBA INVESTMANT COMPANY LIMITED

* * * * *

I. The name of the Company is " **CHINA CBA INVESTMENT COMPANY LIMITED."**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The Authorised Capital of the Company is US$. 1,600,000 (US$ Sixteen Hundred Thousand Only) divided into (16,000) shares of US$. 100 ( US$ One Hundred Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accodance with the regulations of the Company and the legislative provisions for the time being in force in this behalf.

VI) **The Objective for which the Company is established are-**

- Construction Services
- Engineering & Design
- Consultant Service

VII) To borrow money for the benefit of the Company 's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

PROVISO : Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so for as it may be entitled so as to do in accor dance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Republic of theUnion of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **Mr.Bao Zhenbin**<br>No.19, Taiping Stone, Yuhai Street,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 28969736 | 70% | |
| 2. | **Daw Cho Cho San**<br>No.948, Corner of 28th & 83th Street,<br>Mandalay.<br>(Merchant) | Myanmar<br>9/Ma Ya Ma<br>(Naing)-027284 | 20% | |
| 3. | **Mr.Jiang Jianguo**<br>Aotou Village, Tongpu Town,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 36694818 | 5% | |
| 4. | **Mr.Tong Weijun**<br>Room No.701, Unit 6, Building No.4,<br>Yanan Road, Huangshigang Street,<br>Huangshigang Dirstrict, Huangshi City,<br>Hubei Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 61600837 | 5% | |

Yangon. Dated the (16) day of 2 , 2015.

***It is hereby certified that the persons mentioned above put their signatures in my presence.***

ဒေါ်ခင်မျိုးစု (LL.B)
တရားလွှတ်တော်ရှေ့နေ
အမှတ် (၁၉၉/၂၇)၊ ၃၃ × ၃၄ လမ်းကြား၊
၇၃ × ၇၄ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊
မန္တလေးမြို့။ ☎ ၀၂-၂၁၈၁၉
📱 ၀၉-၄၃၀၁၁၁၀၀၁၊ ၆၅၀၃၄၀၉၊ ၂၀၁၅၂၀၈

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles of Association

*OF*

# CHINA CBA INVESTMANT COMPANY LIMITED

* * * * *

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to theCompany save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Limited Company and accordingly following provisions shall have effect : -
   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*
   (b) *Any invitation to the public to subscribe for any share or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is US$. 1,600,000 ( US$ Sixteen Hundred Thousand Only) divided into (16,000) shares of US$. 100 ( US$ One Hundred Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accodance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

4) To secure the fulfillment of any contract or engagement entered into by the Company mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on agars or in such manner as they may think fit.

5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

6) Go appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

7) To accept from any member on such terms and conditions al shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To mark and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on. Behalf of the company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, toques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favor of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for of in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

The books of account shall be kept at the registered office of the Company of at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL.

The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

Subject to the provisions of Section 86(C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. Losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of these Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **Mr.Bao Zhenbin**<br>No.19, Taiping Stone, Yuhai Street,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 28969736 | 70% | |
| 2. | **Daw Cho Cho San**<br>No.948, Corner of 28th & 83th Street,<br>Mandalay.<br>(Merchant) | Myanmar<br>9/Ma Ya Ma<br>(Naing)-027284 | 20% | |
| 3. | **Mr.Jiang Jianguo**<br>Aotou Village, Tongpu Town,<br>Ruian City, Zhejiang Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 36694818 | 5% | |
| 4. | **Mr.Tong Weijun**<br>Room No.701, Unit 6, Building No.4,<br>Yanan Road, Huangshigang Street,<br>Huangshigang Dirstrict, Huangshi City,<br>Hubei Province, China.<br>(Businessman) | Chinese<br>P.P.No<br>G 61600837 | 5% | |

Yangon. Dated the (16) day of 2 , 2015.

***It is hereby certified that the persons mentioned above put their signatures in my presence.***

ဒေါ်ခင်မျိုးစု (LL.B)
တရားလွှတ်တော်ရှေ့နေ
အမှတ် (၁၉၉/၂၇)၊ ၃၃ × ၃၄ လမ်းကြား၊
၇၃ × ၇၄ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊
မန္တလေးမြို့။ ☎ ၀၂-၂၁၈၁၉
📱 ၀၉-၄၃၀၁၁၀၈၁၊ ၆၅၀၃၄၀၉၊ ၂၀၁၅၂၀၈